# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၇၆ / ၂၀၀၇။ ၂၀၀၇ခုနှစ်၊ မတ်လ ၂၈ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး မြိုး ညွန့်

(ခ) အဘအမည် ဦး ကျင်ငို

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ ဗဟန (နိုင်) ၀၇၃၉၂၀

(ဃ) နေရပ်လိပ်စာ အမှတ်(၃၆)၊ အင်း ယား မြိုင်လမ်း၊ ဗဟန်း မြို့နယ် ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အ ထွေ ထွေ စား သောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီလီမိတက် ( General Food Technology Industry Co;Ltd) ဧရာထွက် ပစ္စည်းလက် ခစား စနစ် (Contract Processing ) ဖြင့်ဆောင်ရွက်ခြင်းနှင့်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တန် (၂၀၀) ဆန့်အအေးခန်း စက်ရုံ တည် ဆောက်၍ သန့်ရှင်းလတ်ဆတ် သောငါး၊ ပုစွန်များပြုပြင်ထုတ်လုပ်ခြင်းလုပ်င

ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ထပ်မံ ဖြည့်စွက်ခွင့်အား ၁၁.၇.၂၀၁၂ နေ့တွင်ကျင်းပသော (၂၀/၂၀၁၂)အစည်း အဝေး ဆုံးဖြတ်ချက်အရ ပြင်ဆင်သည်။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေတိုင်းရပ်ကွက်အမှတ် (၂/၂)၊အနောက်ကြို့ကုန်း ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း ။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၀၆၂)သန်း၊ (ကျပ်ရှစ်ဆယ်သန်း၊ ခြောက်သိန်း၊ နှစ်သောင်း )

ဥက္ကဋ္ဌ (ကိုယ်စား )
သူဌေး (ဦးသောင်းလွင်၊တွဲဖက်အတွင်းရေးမှူး )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁ /၂၀၀၇(မနသ)
ရန်ကုန်မြို့၊၁၃၆၈ ခုနှစ်၊ တန်ခူး လဆန်း ၁၀ ရက်
(၂၀၀၇ ခုနှစ်၊ မတ်လ ၂၈ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အထွေထွေစားသောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီလီမိတက်(General Food Technology Industry Co., Ltd. ) မှ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေတိုင်းရပ်ကွက်အမှတ်-(၂/၂)၊ အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၃.၅၆)ဧက (၁၄၄၀၆.၈၂ စတုရန်းမီတာ)ကို BOT စနစ်ဖြင့်ငှားရမ်းပြီး တန် (၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ပုစွန်များပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသည်။ ယင်းတင်ပြချက်အား(၁၃-၁၁-၂၀၀၆) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၆) အစည်းအဝေးနှင့် (၁၀-၁-၂၀၀၇)နေ့တွင် ကျင်းပ သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၀၇)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ယင်းအစည်းအဝေးမှ ခွင့်ပြုရန်သဘောတူ၍ (၁၅-၃-၂၀၀၇) နေ့တွင် ကျင်းပသည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏(၉/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျက် အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီ လီမိတက် (General Food Technology Industry Co., Ltd.)အားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ တန် (၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက်ခွင့်ပြုမိန့်၊အမှတ်၊မနသ - ၆၇၆/၂၀၀၇ ကိုထုတ်ပေးလိုက်သည်။

၂။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုနှင့်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇) ၊ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့်ထုတ်လုပ်မှု၊ ဝန်ဆောင်မှု နှင့်ပြည်ပတင်ပို့မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော် ရမည်။

လျှို့ဝှက်

၄။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )သည် မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာန နှင့် ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေအငှားချထားသူ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန နှင့် အငှားချထားခြင်း ခံရသူ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )တို့ ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ လည်းကောင်း၊ မိတ္တူ(၃)စောင်ကိုရှေ့နေချုပ်ရုံးသို့လည်းကောင်းမပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ မြေငှားရမ်းကာလမှာ စာချုပ် အကျိုးသက်ရောက်သည့် နေ့မှစ၍ ကနဦး (၁၀)နှစ်နှင့် (တစ်)နှစ်(တစ်) ကြိမ်စာချုပ်ချုပ်ဆိုသော စနစ်ဖြင့်(၅)နှစ် တိုးမြှင့်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် အထက်အဖွဲ့အစည်း၏ အတည်ပြုချက် ရယူရမည်။

၉။ မြေငှားရမ်းကာလ ကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် ယင်းနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းများအားလုံးကို ကောင်းမွန်စွာ ပုံမှန် အသုံးပြုနိုင်သည့် အခြေအနေ အတိုင်း အဖိုးစားနား မပါရှိပဲ မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနသို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

၁၀။ မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ်(၆.၅၀)သန်းဖြစ်ပြီး မြေငှားရမ်းခနှုန်းကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည်စိစစ်ရာ၌ ပြီးခဲ့သော (၅)နှစ်ကာလအတွက် ငှားရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေပဲ တိုးမြှင့်ပြင်ဆင်ခွင့် ရှိသည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း လုပ်သားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီလီမိတက်(General Food Technology Industry Co., Ltd. )သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု နှင့်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊မဖြစ်ပေါ်လာစေရန် လိုအပ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကိုဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ပတ်ဝန်းကျင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါကစက်ရုံပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၁၃။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (၃)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ထို့အပြင်လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက် သည့်နေ့ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်)တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကို ရယူရမည်။

၁၅။ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှုကုမ္ပဏီလီမိတက်(General Food Technology Industry Co., Ltd.)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသောတည်ဆဲစည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါကဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။အကယ်၍နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံ ခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်

ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရနောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်းတွင် ထည့်သွင်းခြင်းခံရမည်။

၁၇။ BOTစနစ်ဖြင့်မြေငှားရမ်းခြင်းသဘောတူစာချုပ်ချုပ်ဆိုရန်ကိစ္စကိုလည်းကောင်း၊အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ရန် ကို လည်းကောင်း၊ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (၁)နှစ်အတွင်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၆(က)/မ-၉၈၂/၂၀၀၇ (၁၃၀၅-၀)
ရက်စွဲ ၊၂၀၀၇ ခုနှစ် ၊ မတ် လ ၂၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၆။ အလုပ်သမား ဝန်ကြီးဌာန။

၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး ၊စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၉။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၀။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဘိုးသတ်မှတ်ရေး အဖွဲ့ငယ်။

၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အထွေထွေ စားသောက်ကုန် နည်းပညာ စက်မှု ကုမ္ပဏီလီမိတက် (General Food Technology Industry Co., Ltd. )

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့**

တယ်လီဖုန်း - [illegible]၂၄
ဖက်(စ်) - [illegible]၂၄

စာအမှတ်၊ မရက - ၉/မ/၂၀၁၆ (၀၃၇၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၆ ရက်

အကြောင်းအရာ။ **General Food Technology Industry Co., Ltd. မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေဧရိယာ ၃.၅၆ ဧကအနက်မှ ၁.၅၂ ဧကအား လျှော့ချခွင့် ပြုပါရန်နှင့် ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရာခိုင်နှုန်းပြည့် ဆက်လက်ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ General Food Technology Industry Co., Ltd. ၏ ၂၈-၄-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ G.F.T.I/HR/031/2016

၁။ General Food Technology Industry Co., Ltd. မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် ဇွန်လ ၂၇ ရက်နေ့တွင် ကျင်းပသော (၁၂/၂၀၁၆)ကြိမ်မြောက် ကော်မရှင်အစည်းအဝေးမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေဧရိယာ ၃.၅၆ ဧကအနက်မှ ၁.၅၂ ဧက လျှော့ချခွင့်ပြုရန်နှင့် ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရာခိုင်နှုန်းပြည့် ဆက်လက် ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကော်မရှင်အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန် နှင့် ပြင်ဆင်ချုပ်ဆိုထားသည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်မိတ္တူ(၅)စုံကို ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

**မန်နေဂျင်းဒါရိုက်တာ**
**General Food Technology Industry Co., Ltd.**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန
ရုံးလက်ခံ / မျှောစာတွဲ

decision

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၉ / ၁ / ၂၀၁၆ ( ၁၃၉၉ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မေ လ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **General Food Technology Industry Co., Ltd. မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေဧရိယာ ၃.၅၆ ဧကအနက်မှ ၁.၅၂ ဧကအား လျှော့ချခွင့် ပြုပါရန်နှင့် ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရာခိုင်နှုန်းပြည့် ဆက်လက်ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ General Food Technology Industry Co., Ltd.သည် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၂/၂)တွင် ရေထွက်ပစ္စည်း လက်ခစား စနစ် (Contract Processing) ဖြင့် ဆောင်ရွက်ခြင်းနှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် ၏ ၂၀၀၇ ခုနှစ် မတ်လ ၂၈ ရက်နေ့ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ- ၆၇၆/၂၀၀၇ ကို ရရှိခဲ့ပါသည်။ စီးပွားဖြစ်စတင်သည့်နေ့မှာ ၂၀၀၈ ခုနှစ် မတ်လ ၅ ရက်နေ့ ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ စုစုပေါင်း မတည်ငွေရင်း ပမာဏ ကျပ် ၈၀.၆၂ သန်းကို အပြည့်အဝ ထည့်ဝင်ပြီးဖြစ်ပါသည်။

၃။ ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၂/၂)ရှိ မြေဧရိယာ ၃.၅၆ ဧက အနက်မှ ၁.၅၂ ဧကအား လျှော့ချခွင့် ပြုပါရန်နှင့် ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရာခိုင်နှုန်းပြည့် ဆက်လက် ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာပါသည်။

**စိစစ်တင်ပြချက်**

၄။ ကုမ္ပဏီ၏ တင်ပြချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) General Food Technology Industry Co., Ltd မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့်ပြုပါရန် တင်ပြခဲ့

သည့် ကိစ္စနှင့်စပ်လျဥ်း၍ ၂၀၁၄ ခုနှစ် မတ်လ ၂၂ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၀/၂၀၁၄)ကြိမ်မြောက်အစည်းအဝေးမှ ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

(ခ) သို့သော် ကုမ္ပဏီသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုအနေဖြင့်သာ ယနေ့ထိ လုပ်ငန်းဆောင်ရွက်လျက်ရှိပြီး၂၀၁၄-၂၀၁၅ ခုနှစ် လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာ နှင့် ၂၀၁၅ ခုနှစ် အောက်တိုဘာလမှ ဒီဇင်ဘာလထိ လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာအား တင်ပြထားပါသည်။

(ဂ) ယခု ကုမ္ပဏီသည် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေဧရိယာ ၃.၅၆ ဧက အနက် မြေ ၁.၅၂ ဧကတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအား ဆောင်ရွက်လိုပါသဖြင့် ယင်းမြေ ၁.၅၂ ဧက လျှော့ချ၍ ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရခိုင်နှုန်းပြည့် ဆက်လက် ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဃ) မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် General Food Technology Industry Co., Ltd.တို့သည် BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ၂၀၀၇ ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် လက်မှတ် ရေးထိုး ချုပ်ဆိုခဲ့ပါသည်။ မြေငှားရမ်းခြင်း သက်တမ်း ကာလမှ (၁၀)နှစ်ဖြစ်ပြီး မြေငှား ရမ်းခမှာ တစ်နှစ်လျှင် ကျပ် ၆.၅၀ သန်းဖြစ်ပါသည်။

(င) မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် General Food Technology Industry Co., Ltd.တို့သည် ရန်ကုန်တိုင်း ဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် (၂/၂) ရှိ မြေဧရိယာ ၃.၅၆ ဧက အနက် မြေဧရိယာ ၂.၀၄ ဧက အား General Food Technology Industry Co., Ltd.သို့ တစ်နှစ်လျှင် ငှားရမ်းခ ငွေကျပ် ၄.၂၇ သန်းဖြင့်လည်းကောင်း၊ ကျန်မြေ ၁.၅၂ ဧက အား Golden Bay Ltd.သို့ (၁)စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၀ ဒေါ်လာနှုန်းဖြင့် လည်းကောင်း ငှားရမ်းမည်ဖြစ်ပါ၍ လျှော့ချ ပြင်ဆင်ခြင်း အတွက် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့ တွင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့ပြီး ဖြစ်ပါသည်။

(စ) ပြင်ဆင်ချက် သဘောတူစာချုပ် အပိုဒ်(ခ) အပိုဒ်ခွဲ(ဂ)တွင် "ပြင်ဆင်ချက် သဘောတူ စာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိသည့် နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်" ဟု ဖော်ပြထားပါ သည်။

(ဆ) ကုမ္ပဏီမှ လုပ်ငန်းမြေနေရာလျှော့ချပြင်ဆင်ခြင်းအား ဒါရိုက်တာအဖွဲ့မှ သဘောတူ ကြောင်း အစည်းအဝေး မှတ်တမ်းအား တင်ပြထားပါသည်။

(ဇ) ကုမ္ပဏီမှ ၂၀၁၅-၂၀၁၆ ခုနှစ်အထိ အခွန်ထမ်းဆောင်ထားကြောင်း အထောက်အထားများနှင့် မြန်မာ့စီးပွားရေးဘဏ်၊ ကြည့်မြင်တိုင်ဘဏ်ခွဲသို့ မြေငှားရမ်းခများ ပေးသွင်းထားကြောင်း အထောက်အထား များအား တင်ပြထားပါသည်။

(ဈ) မူလအဆိုပြုချက်ပါ ဝန်ထမ်းအင်အားမှာ ပြည်တွင်းဝန်ထမ်း ၂၀၆ ဦး ဖြစ်ပြီး ခန့်ထားပြီးဝန်ထမ်းမှာ ပြည်တွင်းဝန်ထမ်း ၂၈၉ ဦး ဖြစ်ပါသည်။

(ည) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၈)၊ ပုဒ်မ ၁၆ ၊ ပုဒ်မခွဲ (ဈ) တွင် "စီးပွားရေးလုပ်ငန်းကို အဆိုပြုချက်နှင့်အညီ အောင်မြင်စွာ ဆောင်ရွက် နိုင်ရန် သို့မဟုတ် ရထိုက်ခွင့်ရှိသော အခွင့်အရေးများကို ရရှိနိုင်ရန် အလို့ငှာ ကော်မရှင်၏ အမိန့် သို့မဟုတ် ဆုံးဖြတ်ချက် တစ်ရပ်ရပ်ကို ပြန်လည် သုံးသပ် ပြင်ဆင်ပေးရန် ကော်မရှင်သို့ တင်ပြခွင့် ရှိခြင်း" ဟူ၍ ဖော်ပြပါရှိ ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ သို့ဖြစ်ပါ၍ General Food Technology Industry Co., Ltd.မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေဧရိယာ ၃.၅၆ ဧက အနက်မှ ၁.၅၂ ဧက လျှော့ချ၍ ကျန်မြေဧရိယာ ၂.၀၄ ဧကတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရာခိုင်နှုန်းပြည့် ဆက်လက်ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(အောင်နိုင်ဦး)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

ရုံးလက်ခံ